# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

(မနသ-၂)

ခွင့်ပြုမိန့်အမှတ်၊ မနသ- ၅၅၇ / ၂၀၀၂ ၂၀၀၂ ခုနှစ်၊ အောက်တိုဘာ လ ၄ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးဌေးမြင့်

(ခ) အဘအမည် ဦးစွမ်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/လမတ(နိုင်)၀၀၉၉၆၀

(ဃ) နေရပ်လိပ်စာ အမှတ်(၃၃)၊ အေးရိပ်မွန်လမ်းမကြီး၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ဧရာဝတီ ရေလုပ်ငန်း လီမိတက် ( Ayeyarwady Fisheries Ltd. )

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ငါး၊ ပုစွန်ပြုပြင် အေးခဲသည့်တန်(၇၅၀) ဆန့်အေး အေးခန်းစက်ရုံ၊ ရေခဲစက်နှင့်တိရစ္ဆာန်အစာ၊ အစာတောင့်စက်ရုံ လုပ်ငန်း ။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ဧရာဝတီတိုင်း၊ ပုသိမ်မြို့၊ အမှတ်(၁)ရပ်ကွက် ရန်ကင်းတောင်လမ်း၊ အကွက်အမှတ်(၄)၊ စည့်အိုးဘို မြေကွက် ဦးပိုင်အမှတ်(၁၊ ၂၊ ၁-ဃ၊ ၆-ခနှင့် ၂၉-ဃ၊ ၁-ခ)

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၄၅၄.၃၀) သန်း (ကျပ် လေးရာ့ငါးဆယ့် လေးသန်းနှင့် သုံး သိန်း )

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

လျို့ဝှက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**
**အမိန့် ကြော်ငြာစာအမှတ်၊ ၄၀ /၂၀၀၂ (မနသ)**
**ရန်ကုန်မြို့၊ ၁၃၆၄ ခုနှစ်၊ တော်သလင်းလဆုတ် ၃ ရက်**
**(၂၀၀၂ ခုနှစ်၊ အောက်တိုဘာလ ၄ ရက်)**

၁။ မြန်မာကုမ္ပဏီဖြစ်သော ဧရာဝတီရေလုပ်ငန်း လီမိတက် (Ayeyarwady Fisheries Ltd.) တည်ထောင်၍ ပုသိမ်ခရိုင် အထွေထွေအုပ်ချုပ်ရေး ဦးစီးဌာနထံမှ ကမကထပြုသူ ဦးဌေးမြင့်နှင့် ဒါရိုက်တာအဖွဲ့ဝင် ဦးဝင်းမြင့်တို့ အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော ဧရာဝတီတိုင်း၊ ပုသိမ်မြို့၊ အမှတ်(၁)ရပ်ကွက်၊ စဥ့်အိုးဘိုမြောက်၊ ရန်ကင်းတောင်လမ်း၊ အကွက်အမှတ်(၄)၊ ဦးပိုင်အမှတ် ၁၊ ၂၊ ၁-ဃ၊ ၆-ခ၊ ၂၉-ဃနှင့် ၁-ခ ရှိ မြေ(၈.၃၆၁) ဧက (၃၃၈၃၅.၈၀ စတုရန်းမီတာ)တွင် ငါး၊ ပုစွန် ပြုပြင်အေးခဲသည့်တန် (၇၅၀)ဆန့် အအေးခန်းစက်ရုံ၊ ရေခဲစက်နှင့် ဟိရညွှာန်အစားအစာတောင့် စက်ရုံလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြချက်အား(၂၃-၈-၂၀၀၂)နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၈/၂၀၀၂)အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှမူအားဖြင့် သဘောတူညီခဲ့ပြီး(၅-၉-၂၀၀၂) နေ့တွင် ကျင်းပသည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၂၂/၂၀၀၂) အစည်းအဝေးသို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ(၂၆-၉-၂၀၀၂) နေ့တွင် ကျင်းပသည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၃၆/၂၀၀၂) အစည်းအဝေး သို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ဧရာဝတီရေလုပ်ငန်း လီမိတက် (Ayeyarwady Fisheries Ltd.) အား ငါး၊ ပုစွန် ပြုပြင်အေးခဲသည့်တန် (၇၅၀)ဆန့် အအေးခန်းစက်ရုံ၊ ရေခဲစက်နှင့် တိရစ္ဆာန် အစားအစာ တောင့် စက်ရုံလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၅၅၇/၂၀၀၂ ကို ထုတ်ပေးလိုက်သည်။

၂။ ဧရာဝတီရေလုပ်ငန်း လီမိတက် (Ayeyarwady Fisheries Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ လုပ်ငန်းစတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန် လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်းအကောင်အထည် ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရ အဆိုပြု လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာ

လို။ ဝက်

ခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်(၃)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်းပြည်ပ ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ (တစ်)နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေ ကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြလျှောက်ထား ရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကို သတ်မှတ် သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန် တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များကိုကင်းလွတ်ခွင့် ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ် အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ် ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်း များ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် လုပ်ငန်းသုံး ပစ္စည်းများအတွက် အဆိုပြုချက်ပါအတိုင်း ရင်းနှီးမြှုပ်နှံသူ၏ ကိုယ်ပိုင်နိုင်ငံခြားငွေဖြင့် L/C ဖွင့်လှစ် ဝယ်ယူတင်သွင်းရမည်ဖြစ်ပြီး နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည် တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ ဧရာဝတီရေလုပ်ငန်း လီမိတက်(Ayeyarwady Fisheries Ltd.)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက် ရာတွင် မူလအဆိုပြုလွှာ၌ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ ဧရာဝတီရေလုပ်ငန်း လီမိတက် (Ayeyarwady Fisheries Ltd.)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ ဧရာဝတီရေလုပ်ငန်း လီမိတက် (Ayeyarwady Fisheries Ltd.)ကို မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နှင့်အညီ မှတ်ပုံတင်နိုင်ရန်အတွက် ကုမ္ပဏီများ ညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန သို့လျှောက်ထားရမည်။ ကုမ္ပဏီအား မှတ်ပုံတင်ပြီးသည့်အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (၅) စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြ ရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများ ညွှန်ကြားမှု ဌာနက အတည်ပြုပြီးဖြစ်သည့် မြန်မာ–အင်္ဂလိပ် နှစ်ဘာသာဖြင့် ပြုစု ထားသော ကုမ္ပဏီ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ (Memorandum and Articles of Association)

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက် ၍သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၈။ ဧရာဝတီရေလုပ်ငန်း လီမိတက် (Ayeyarwady Fisheries Ltd.)မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့် အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။

၉။ ဧရာဝတီရေလုပ်ငန်း လီမိတက် (Ayeyarwady Fisheries Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံ တင်ပြရမည်။ ပတ်ဝန်းကျင် ညစ်ညမ်းမှုများ ဖြစ်ပေါ်စေပြီး ပတ်ဝန်းကျင်မှ ကန့်ကွက်လာ ပါက စက်ရုံပိတ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၀။ ဧရာဝတီရေလုပ်ငန်း လီမိတက် (Ayeyarwady Fisheries Ltd.)သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေ များကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/ အောက်တိုဘာလများ) မပျက်မကွက် ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။

၁၁။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၂။ ဧရာဝတီရေလုပ်ငန်း လီမိတက် (Ayeyarwady Fisheries Ltd.)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ် ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်ခြင်းမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည်အထိ အရေးယူ ခြင်းခံရမည်။

( ဦးသောင်း )

ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၁/မ-၈၀၃/၂၀၀၂ ( ၂ ၀ ၇ ၃ )

ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ အောက်တိုဘာလ ၄ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။

၃။ အစိုးရအဖွဲ့ရုံး။

၄။ ဧရာဝတီတိုင်း၊ အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။

၅။ ကာကွယ်ရေး ဝန်ကြီးဌာန၊ တပ်မတော် ထောက်လှမ်းရေး ဌာနချုပ်ရုံး၊ (ပြည်တွင်း ထောက်လှမ်းရေးဌာန)။

၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၇။ အလုပ်သမား ဝန်ကြီးဌာန။

၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။

လျှို့ဝှက်

၅

၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။

၁၁။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။

၁၂။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

၁၃။ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန။

၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။

၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။

၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။

၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၃။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၅။ ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့် ရေလုပ်ငန်း ညွှန်ကြားမှု ဦးစီးဌာန။

၂၆။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်း ဦးစီးဌာန။

၂၇။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။

၂၈။ ဒါရိုက်တာ၊ ဧရာဝတီရေလုပ်ငန်း လီမိတက် (Ayeyarwady Fisheries Ltd.)။